





# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၀၃၀/၂၀၁၇ ၂၀၁၇ ခုနှစ်၊ နိုဝင်ဘာလ ၂၄ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၅၊ ပုဒ်မခွဲ(ဂ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူအမည် Denko Trading Company Limited

(၂) နိုင်ငံသား -

(၃) နေရပ်လိပ်စာ အမှတ်-၁၊ ကနောင်မင်းသားကြီးလမ်း၊ ရွှေလင်ပန်းစက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ Denko Trading Company Limited အမှတ်-၁၊ ကနောင်မင်းသားကြီးလမ်း၊ ရွှေလင်ပန်းစက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့

(၅) ဖွဲ့စည်းရာအရပ် မြန်မာနိုင်ငံ

(၆) ရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းအမျိုးအစား စက်သုံးဆီ သိုလှောင်ရေးစခန်း တည်ဆောက်၍ သိုလှောင်ခြင်း၊ ငှားရမ်းခြင်း နှင့် ဖြန့်ဖြူးခြင်းလုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ကနောင် မင်းသားကြီးလမ်း၊ ရွှေလင်ပန်းစက်မှုဇုန်ရှိ မြေတိုင်းရပ်ကွက် အမှတ်(၁၅)၊ မြေကွက်အမှတ် (၁) ရှိ မြေ ၇ ဧက

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ -

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ -

(၁၀) စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်) ၅,၉၅၂သန်း(အမေရိကန်ဒေါ်လာ ၃.၇၃၃ သန်း အပါအဝင် ကျပ်သန်းပေါင်း ငါးထောင် ကိုးရာ ငါးဆယ့်နှစ်သန်းတိတိ)

(၁၁) တည်ဆောက်မှု/ပြင်ဆင်မှုကာလ ၂ နှစ်

(၁၂) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့် သက်တမ်း -

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည် Denko Trading Company Limited (ဒန်ကိုရောင်းဝယ်ရေးကုမ္ပဏီလီမိတက်)

24.11.17

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊ မရက- ၅(စ)/ခ-၀၀၇/၂၀၁၇ (၅၂၇-ဂ)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် နိုဝင်ဘာလ ၂၄ ရက်

အကြောင်းအရာ။ **Denko Trading Company Limited (ဒန်ကိုရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်)၏ စက်သုံးဆီ သိုလှောင်ရေးစခန်း တည်ဆောက်၍ သိုလှောင်ခြင်း၊ ငှားရမ်းခြင်း နှင့် ဖြန့်ဖြူးခြင်းလုပ်ငန်းခွင့်ပြုမိန့်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ Denko Trading Company Limited (ဒန်ကိုရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်) ၏ ၉-၁၀-၂၀၁၇ ရက်စွဲပါစာ

၁။ Denko Trading Company Limited (ဒန်ကိုရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်)မှ ရန်ကုန်တိုင်း ဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ကနောင်မင်းသားကြီးလမ်း၊ ရွှေလင်ပန်းစက်မှုဇုန်ရှိ မြေတိုင်းရပ်ကွက် အမှတ်(၁၅)၊ မြေကွက်အမှတ်(၁)ရှိ မြေ ၇ ဧကတွင် စက်သုံးဆီ သိုလှောင်ရေးစခန်း တည်ဆောက်၍ သိုလှောင်ခြင်း၊ ငှားရမ်းခြင်း နှင့် ဖြန့်ဖြူးခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင် ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းအား ၂၀၁၇ ခုနှစ် နိုဝင်ဘာလ ၁၀ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၅/၂၀၁၇) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် Denko Trading Company Limited အား စက်သုံးဆီ သိုလှောင်ရေးစခန်း တည်ဆောက်၍ သိုလှောင်ခြင်းနှင့်ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ ၀၃၀/၂၀၁၇ ကို ထုတ်ပေးလိုက်သည်။

၂။ Denko Trading Company Limited(ဒန်ကိုရောင်းဝယ်ရေးကုမ္ပဏီ လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် တစ်ဖက်ပါ အချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Denko Trading Company Limited (ဒန်ကိုရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၂) အရ မြေအသုံးပြုခွင့်နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၈)၊ ပုဒ်မ ၇၇ နှင့် ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Denko Trading Company Limited (ဒန်ကိုရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရဝန်ဆောင်မှုရည်မှန်းချက်များကို အကောင်းဆုံးအကောင်အထည်ဖော် ဆောင်ရွက်ရမည်။

(ဂ) Denko Trading Company Limited (ဒန်ကိုရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်)အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း(၂၀)တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) Denko Trading Company Limited (ဒန်ကိုရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) တို့ကို သက်ဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ ဆောင်ရွက်ရမည်။

(င) Denko Trading Company Limited (ဒန်ကိုရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်း ကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်း နှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(စ) Denko Trading Company Limited (ဒန်ကိုရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ ခွင့်ပြုမိန့် သို့မဟုတ် သက်သာခွင့်ရရှိ ထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ် ဘဏ္ဍာရေးနှစ်

ကုန်ဆုံးပြီး နောက်သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များ ပါရှိသည့် နှစ်စဉ် အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်) ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဆ) Denko Trading Company Limited (ဒန်ကိုရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်နေစဉ်အတွင်းလုပ်ငန်းအစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင် က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Denko Trading Company Limited (ဒန်ကိုရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်) သည် အဆိုပြု လုပ်ငန်း ဆောင်ရွက်မည့်မြေ အသုံးပြုခွင့်နှင့် ပတ်သက်၍ မြေအသုံးချမှု ပြောင်းလဲခြင်း လုပ်ငန်းစဉ်အား သက်ဆိုင်ရာ ဥပဒေနှင့်အညီ အကောင်အထည်ဖော် ဆောင်ရွက်ပြီးပါက ကော်မရှင် သို့ ပြန်လည် တင်ပြသွားရမည်။

၄။ Denko Trading Company Limited (ဒန်ကိုရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်) သည် အဆိုပြု လုပ်ငန်း ဆောင်ရွက်ရာတွင် လုပ်ငန်း သဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရ ဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ် ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များ နှင့် အညီဆောင်ရွက်ပြီး မိတ္တူ(၅)စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

24.11.17

(ကျော်ဝင်း)

ဥက္ကဋ္ဌ

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ ရန်ကုန်မြို့
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီး ဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
Denko Trading Company Limited (ဒန်ကိုရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်)